




# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်

## ခွင့်ပြုမိန့်

ခွင့်ပြုမိန့်အမှတ်၊ မနသ-....၄၃၁..../၂၀၀၀။ ၂၀၀၀ ပြည့်နှစ်၊ အောက်တိုဘာ လ ၆ ရက်။

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၀ အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) ရင်းနှီးမြှုပ်နှံသူ၏ အမည် ........ ဒေါက်တာ ဝင်း ချို ........

(ခ) အဘအမည် ........ ဦး သိန်း တန် ........

(ဂ) နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ် ၁/ဝဘန(နိုင်)၀၉၇၃၆၇ ........

(ဃ) နေရပ်လိပ်စာ အမှတ်(၇၅)၊ ၂၆လမ်း၊ (၇၃ × ၇၄) လမ်းကြား ........

........ ဇီကွရမဟာရပ်၊ ချမ်းအေးသာဇံမြို့နယ်၊ မန္တလေး မြို့ ........

(င) ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့်အဖွဲ့အစည်း မြစ်မင်း ဧရာဝတီ ဆောက်

လုပ်ရေး အဖွဲ့ကုမ္ပဏီလီမိတက် (Myitmin Ayeyarwaddy Construction Group Co., Ltd.)

(စ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လုပ်ငန်းအမျိုးအစား ဘီအိုတီ စနစ်ဖြင့် ရုံးခန်းများ၊

........ ဈေးဆိုင်ခန်းများ တည်ဆောက်၍ ဖွင့်လှစ်လုပ်ကိုင်ခြင်း ........

(ဆ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် အရပ်ဒေသ(များ) အမှတ်(၆၃၁) နှင့် (၆၃၆) ........

ကဥ္စနမဟာရပ်ကွက်၊ ချမ်းအေးသာဇံမြို့နယ်၊ မန္တလေး မြို့ ........

(ဇ) မတည်ငွေရင်းပမာဏ(ကျပ်) (၇၂.၀၀) သန်း (ကျပ်ခုနစ်ဆယ့်နှစ်သန်းတိတိ)

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
မှ

**မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်**
အမိန့် ကြော်ငြာစာအမှတ်၊ ၃၇၁/၂၀၀၀ (မနသ)
**ရန်ကုန်မြို့၊ ၁၃၆၂ ခုနှစ်၊ သီတင်းကျွတ် လဆန်း ၉ ရက်။**
(၂၀၀၀ ပြည့်နှစ်၊ အောက်တိုဘာလ ၆ ရက်)

၁။ မြန်မာကုမ္ပဏီဖြစ်သော မြစ်မင်း ဧရာဝတီ ဆောက်လုပ်ရေးအဖွဲ့ ကုမ္ပဏီ လီမိတက် (Myitmin Ayeyarwaddy Construction Group Co., Ltd.) မှ ရထားပို့ဆောင်ရေး ဝန်ကြီးဌာန၊ မြန်မာ့ မီးရထားပိုင် မြေကွက်အမှတ် (၆၃၁)နှင့် (၆၃၆)၊ ကဠုနမဟီရပ်ကွက်၊ ချမ်းအေးသာဇံမြို့နယ်၊ မန္တလေးမြို့ရှိမြေ (၀.၂၀၈) ဧက (၈၄၃.၅၅ စတုရန်းမီတာ) ကို ကနဦး နှစ်(၂၀)၊ နောက်ထပ် (၅)နှစ် (၂ကြိမ်) ငှါးရမ်း၍ B.O.T စနစ်ဖြင့် ရုံးခန်းများ၊ ဈေးဆိုင်ခန်းများ တည်ဆောက်၍ ဖွင့်လှစ်လုပ်ကိုင် ဆောင်ရွက်ခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ နှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြချက်အား (၁၈–၈–၂၀၀၀) နေ့တွင် ကျင်းပပြုလုပ်ခဲ့သည့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၂၈/၂၀၀၀)ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ရာ ကော်မရှင်မှ မူအားဖြင့် သဘောတူညီခဲ့ပြီး (၈–၉–၂၀၀၀)နေ့တွင် ကျင်းပ ပြုလုပ်သည့် ကုန်သွယ်မှု မူဝါဒ ကောင်စီ၏ (၁၁/၂၀၀၀) ကြိမ်မြောက် အစည်းအဝေးသို့ ဆက်လက် တင်ပြခဲ့ပါသည်။ အဆိုပါ အစည်းအဝေး သဘောတူညီချက်အရ (၂၈–၉–၂၀၀၀)နေ့တွင် ကျင်းပပြုလုပ်သည့် ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရအဖွဲ့၏ (၃၇/၂၀၀၀)ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ရာ သဘောတူကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း (၅)၊ ပုဒ်မ ၁၀ အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျက် မြစ်မင်း ဧရာဝတီ ဆောက်လုပ်ရေးအဖွဲ့ ကုမ္ပဏီ လီမိတက် (Myitmin Ayeyarwaddy Construction Group Co., Ltd.) အား မြန်မာ့ မီးရထားပိုင် မြေပေါ်တွင် B.O.T စနစ်ဖြင့် ရုံးခန်းများ၊ ဈေးဆိုင်ခန်းများ တည်ဆောက်၍ ဖွင့်လှစ်လုပ်ကိုင် ဆောင်ရွက်ခြင်း လုပ်ငန်းကို ဆောင်ရွက်နိုင်ရန် အတွက် ခွင့်ပြုမိန့် အမှတ်၊ မနသ–၄၃၅/၂၀၀၀ ကို ထုတ်ပေး လိုက်သည်။

၂။ မြစ်မင်း ဧရာဝတီ ဆောက်လုပ်ရေးအဖွဲ့ ကုမ္ပဏီ လီမိတက် (Myitmin Ayeyarwaddy Construction Group Co., Ltd.) အနေဖြင့် ဤခွင့်ပြုမိန့်အရ ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၇)၊ ပုဒ်မ ၁၂ အရ လုပ်ငန်းစတင်သော နှစ်အပါအဝင် တစ်ဆက်တည်း (၃)နှစ်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့်နှင့် ဥပဒေ ပုဒ်မ ၁၃ ပါ ပြဋ္ဌာန်းချက်များနှင့်အညီ အောက်ဖော်ပြပါ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုနိုင်ရန် ဤအမိန့် ကြော်ငြာစာကို ထုတ်ပြန်လိုက်သည်။

(က) ဥပဒေပုဒ်မ ၁၃(ဂ)အရ ဝန်ဆောင်မှု လုပ်ငန်းကြောင့် သတ်မှတ်သည့် နှုန်းအထိ ပြည်တွင်း ပြည်ပဝင်ငွေတိုးတက်မှု ရှိပါက သတ်မှတ်ချက်နှင့် အညီ ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန် အတွက် ဝင်ငွေခွန်ကင်းလွတ်ခွင့်ကာလ ကုန်ဆုံးပြီးသည့်အခါလုပ်ငန်း အကောင်အထည်ဖော် ဆောင်ရွက်နိုင်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ခ) ဥပဒေ ပုဒ်မ ၁၃(စ) အရ လုပ်ငန်းမှ ရရှိသည့် အမြတ်ငွေကို သီးသန့် ရန်ပုံငွေထား၍ တစ်နှစ် အတွင်း လုပ်ငန်း၌ ပြန်လည် ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေအပေါ် ဝင်ငွေခွန် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် ကာလ ကုန်ဆုံးပြီး၍

အမှန်တကယ် ပြန်လည် ရင်းနှီးမြှုပ်နှံမှု ပြုသည့်အခါ လုပ်ငန်း အမှန်တကယ် အကောင်အထည်ဖော်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြ လျှောက်ထားရမည်။

(ဂ) ဥပဒေ ပုဒ်မ ၁၃(ဆ) အရ လုပ်ငန်းသုံးမတည်ပစ္စည်းများအပေါ် တန်ဖိုးလျော့ငွေကို သတ်မှတ်သည့် နှုန်းအတိုင်း နှစ်တိုတို နှင့် မူလတန်ဖိုး ပြည့်မီသည်အထိ အမြတ်ငွေမှ နုတ်ပယ်ခွင့် နှင့် စပ်လျဉ်း၍ ယင်းတန်ဖိုး လျော့နှုန်းထားများကို ဤကော်မရှင်သို့ တင်ပြ လျှောက်ထားရမည်။

၃။ မြစ်မင်း ဧရာဝတီ ဆောက်လုပ်ရေးအဖွဲ့ ကုမ္ပဏီ လီမိတက် (Myitmin Ayeyarwaddy Construction Group Co., Ltd.) သည် ဤခွင့်ပြုမိန့်အရ လုပ်ငန်း ဆောင်ရွက်ရာတွင် မူလအဆိုပြုလွှာ၌ ဖော်ပြထားသည့် ဝန်ဆောင်မှု ရည်မှန်းချက်များကို အနိမ့်ဆုံး ရည်မှန်းချက်များ အဖြစ် ထားရှိဆောင်ရွက် အကောင်အထည် ဖော်ရမည်။

၄။ မြစ်မင်း ဧရာဝတီ ဆောက်လုပ်ရေးအဖွဲ့ ကုမ္ပဏီ လီမိတက် (Myitmin Ayeyarwaddy Construction Group Co., Ltd.) သည် ဤအဆိုပြု လုပ်ငန်း၏ စာရင်းများကို သီးခြားပြုစုထားရှိရမည်။

၅။ ရထားပို့ဆောင်ရေး ဝန်ကြီးဌာန၊ မြန်မာ့မီးရထားနှင့် မြစ်မင်း ဧရာဝတီ ဆောက်လုပ်ရေးအဖွဲ့ ကုမ္ပဏီ လီမိတက် (Myitmin Ayeyarwaddy Construction Group Co., Ltd.) တို့သည် အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ အတည်ပြုပြီးဖြစ်သော တည်ဆောက်ခြင်း၊ လုပ်ဆောင်ခြင်း၊ လွှဲပြောင်းခြင်းစနစ်ဖြင့် မြေငှါးရမ်းခြင်းသဘောတူစာချုပ်ပါ စည်းမျဉ်းစည်းကမ်းများအတိုင်း လိုက်နာဆောင်ရွက်ကြရမည်။

၆။ အဆိုပြုလုပ်ငန်းကို ဆောင်ရွက်နိုင်ရန်အတွက် ရထားပို့ဆောင်ရေး ဝန်ကြီးဌာန၊ မြန်မာ့မီးရထားနှင့် မြစ်မင်း ဧရာဝတီ ဆောက်လုပ်ရေးအဖွဲ့ ကုမ္ပဏီ လီမိတက် (Myitmin Ayeyarwaddy Construction Group Co., Ltd.) တို့အကြားချုပ်ဆိုမည့် တည်ဆောက်ခြင်း၊ လုပ်ဆောင်ခြင်း၊ လွှဲပြောင်းခြင်းစနစ်ဖြင့် မြေငှါးရမ်းခြင်းသဘောတူစာချုပ်ကို လက်မှတ်ရေးထိုးပြီးသည့်အခါ ယင်းသဘောတူစာချုပ် မိတ္တူ (၅) စောင်ကို ဤကော်မရှင်သို့ မပျက်မကွက် ပေးပို့ တင်ပြရမည်။

၇။ မြေငှါးရမ်းခြင်း သက်တမ်းကာလမှာ ကနဦး အနှစ်(၂၀) (နှစ်ဆယ်)ဖြစ်ပြီး နောက်ထပ် (၅)နှစ် (၂)ကြိမ် ဆက်လက် ငှါးရမ်းခွင့်ရရှိရေးအတွက် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ တင်ပြရမည်။

၈။ မြေငှါးရမ်းခကို စုစုပေါင်း ငှါးရမ်းနိုင်သည့် ကြမ်းပြင်ဧရိယာအပေါ် တစ်နှစ်လျှင် တစ်စတုရန်းမီတာကို ကျပ်(၆၅၀) (ကျပ် ခြောက်ရာ့ငါးဆယ်တိတိ)နှုန်းဖြင့် စုစုပေါင်း ကြမ်းခင်းဧရိယာ (၂၅၉၈.၁၂) စတုရန်းမီတာအတွက် ကျပ် ၁၆၈၈၇၇၈ (ကျပ် တစ်ဆယ့် ခြောက်သိန်း ရှစ်သောင်း ရှစ်ထောင် ခုနစ်ရာ ခုနစ်ဆယ့်ရှစ်တိတိ) ကို (၃)လ တစ်ကြိမ် သက်ဆိုင်ရာလ၏ လဆန်း(၁၀)ရက်အတွင်း ကြိုတင်ပေးချေရမည်။

၉။ မြေငှားရမ်းခနှုန်းကို (၅)နှစ်လျှင်တစ်ကြိမ် ပြန်လည်စိစစ်ခွင့်နှင့် ပြင်ဆင်သတ်မှတ်သည့် နှုန်းထားသည် ပြီးခဲ့သော (၅)နှစ်ကာလအတွက် သတ်မှတ်သည့် နှစ်စဉ်ငှားရမ်းခနှုန်း၏ (၁၅) ရာခိုင်နှုန်းထက်မပိုစေဘဲ တိုးမြှင့်ပြင်ဆင်ခွင့် ရှိရမည်။

၁၀။ မြေအသုံးချမှုပေးငွေ ကျပ် (၃၆)သိန်း(ကျပ်သုံးဆယ့် ခြောက်သိန်းတိတိ)ကို (၃)ရစ်ခွဲ၍ အောက်ပါအတိုင်း ပေးချေရမည်ဖြစ်ပါသည်။

| | | |
|---|---|---|
| ပထမအရစ် | – | ကျပ် (၁၄.၄)သိန်း(စာချုပ်လက်မှတ် ရေးထိုးသည့် နေ့မှ ရက်ပေါင်း (၃၀) အတွင်း) |
| ဒုတိယအရစ် | – | ကျပ် (၁၀.၈) သိန်း (ပထမအရစ် ပေးချေပြီးသည့် နေ့မှ (၆)လ အတွင်း) |
| တတိယအရစ် | – | ကျပ် (၁၀.၈)သိန်း (ဒုတိယအရစ် ပေးချေပြီးသည့်နေ့မှ (၆)လ အတွင်း) |

၁၁။ မြစ်မင်း ဧရာဝတီ ဆောက်လုပ်ရေးအဖွဲ့ ကုမ္ပဏီ လီမိတက် (Myitmin Ayeyarwaddy Construction Group Co., Ltd.) အခန်းဝယ်သူများအား အခန်းအသုံးပြုခွင့် ရောင်းချခြင်းသာဖြစ်ကြောင်း စာချုပ်တွင် အတိအကျ ဖော်ပြရမည်။

၁၂။ အခန်းများကို နိုင်ငံခြားသား (သို့မဟုတ်) နိုင်ငံခြားသားပိုင် ကုမ္ပဏီသို့ တစ်နှစ်ထက်ကျော်လွန်၍ ထပ်ဆင့်ငှားရမ်းမည် ဆိုပါက ၁၉၈၇ ခုနှစ်၊ မရွေ့မပြောင်းနိုင်သော ပစ္စည်းများလွှဲပြောင်းခြင်းကို ကန့်သတ်သည့် ဥပဒေပုဒ်မ ၁၄ အရ သက်ဆိုင်ရာ ဝန်ကြီးဌာနက ထုတ်ပေးထားသော ကင်းလွတ်ခွင့်ပြုသည့် အမိန့်ကိုရရှိပြီး ဖြစ်ရမည်။

၁၃။ ငှားရမ်းကာလ ကုန်ဆုံးသည့်အခါ မြေနှင့်တကွ အဆောက်အဦ အပါအဝင် အဆောက်အဦနှင့် ဆက်စပ်ပတ်သက်နေသော ပစ္စည်းအားလုံးကို ကောင်းမွန်စွာ အသုံးပြုနိုင်သည့် အနေအထား အတိုင်း မြန်မာ့ မီးရထားသို့ အဖိုးစားနားမဲ့ ပြန်လည်လွှဲပြောင်း ပေးရမည်။ ယင်းသို့လွှဲပြောင်း ပေးရာတွင် အဆောက်အဦမှာ အလွတ်သက်သက် ဖြစ်စေရမည်။

၁၄။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မြေအသုံးပြုမှုနှင့်စပ်လျဉ်း၍ နိုင်ငံတော်အစိုးရမှ မြေယာနှင့် ပတ်သက်၍ သတ်မှတ် ပြဋ္ဌာန်းမည့် စည်းကမ်းသတ်မှတ်ချက်များကို တိကျစွာ လိုက်နာ ဆောင်ရွက်ရမည်။

၁၅။ အဆိုပြု လုပ်ငန်းဆောင်ရွက်ရန်အတွက် ပြည်တွင်းအလုပ်သမားများ ခန့်ထားရာတွင် အလုပ်သမား ဝန်ကြီးဌာန၊ အလုပ်သမား ညွှန်ကြားရေး ဦးစီးဌာန နှင့် ညှိနှိုင်းဆောင်ရွက်ရမည်။

၁၆။ မြစ်မင်း ဧရာဝတီ ဆောက်လုပ်ရေးအဖွဲ့ ကုမ္ပဏီ လီမိတက် (Myitmin Ayeyarwaddy Construction Group Co., Ltd.) သည် ဤခွင့်ပြုမိန့်အရ ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရာ၌ ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှု၊ မီးဘေးအန္တရာယ် စသည်များ၊ မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် ပတ်ဝန်းကျင် ညစ်ညမ်းမှု ထိန်းသိမ်း ကာကွယ်ရေး အစီအမံများကို ဝန်ခံဂတိပြုထားသည့်အတိုင်း စံနစ်တကျ ထားရှိ ဆောင်ရွက်ရမည်။ ယင်းသို့ ဆောင်ရွက်ထားရှိမှု အခြေအနေကို ဤကော်မရှင်သို့ မပျက်မကွက် အစီရင်ခံ ရမည်။

၁၇။ မြစ်မင်း ဧရာဝတီ ဆောက်လုပ်ရေးအဖွဲ့ ကုမ္ပဏီ လီမိတက် (Myitmin Ayeyarwaddy Construction Group Co., Ltd.) သည် ပူးတွဲပါ ကနဦးလုပ်ငန်း ဆောင်ရွက်မှု အစီရင်ခံစာကို ဤခွင့်ပြုမိန့်ရရှိပြီး ၃(သုံး)လအတွင်း ဤကော်မရှင်သို့ မပျက်မကွက် အစီရင်ခံရမည်။

၁၈။ အဆိုပြု လုပ်ငန်းစတင်ဆောင်ရွက်သည့် နေ့ရက်ကို ဤကော်မရှင်သို့ မပျက်မကွက် အစီရင်ခံရမည်။

၁၉။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့် နေ့မှစ၍ တစ်နှစ်အတွင်း အဆိုပြုလုပ်ငန်း စတင် ဆောင်ရွက်ခြင်း မပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီးဖြစ်သည်ဟု မှတ်ယူရမည်။

( ဦးသောင်း )
ဥက္ကဋ္ဌ

စာအမှတ်၊ ရက–၁/မ–၆၃၅/၂၀၀၀ (၂၁၇၅–၈ )
ရက်စွဲ၊ ၂၀၀၀ ပြည့်နှစ်၊ အောက်တိုဘာလ ၄ ရက်။

ဖြန့်ဝေခြင်း–

၁။ နိုင်ငံတော် အေးချမ်းသာယာရေး နှင့် ဖွံ့ဖြိုးရေး ကောင်စီ ဥက္ကဋ္ဌရုံး။
၂။ နိုင်ငံတော် အေးချမ်းသာယာရေး နှင့် ဖွံ့ဖြိုးရေး ကောင်စီ ရုံး။
၃။ အစိုးရအဖွဲ့ရုံး။
၄။ စစ်မဟာဗျူဟာ လေ့လာရေးရုံး၊ ကာကွယ်ရေး ဝန်ကြီးဌာန။
၅။ အမျိုးသား စီမံကိန်း နှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန။
၆။ အလုပ်သမား ဝန်ကြီးဌာန။
၇။ ဆောက်လုပ်ရေး ဝန်ကြီးဌာန။
၈။ ဆက်သွယ်ရေး၊ စာတိုက် နှင့် ကြေးနန်း ဝန်ကြီးဌာန။
၉။ ဘဏ္ဍာရေး နှင့် အခွန်ဝန်ကြီးဌာန။
၁၀။ ရထားပို့ဆောင်ရေး ဝန်ကြီးဌာန။
၁၁။ လျှပ်စစ်စွမ်းအား ဝန်ကြီးဌာန။
၁၂။ ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံတော် ဗဟိုဘဏ်။
၁၃။ ဥက္ကဋ္ဌ၊ နိုင်ငံခြားမတည်ငွေရင်းတန်ဖိုး သတ်မှတ်ရေး အဖွဲ့ငယ်။ (ညွှန်ကြားရေးမှူးချုပ်၊ ဗဟိုစက်ပစ္စည်း စာရင်းအင်း နှင့် စစ်ဆေးရေး ဦးစီးဌာန။)
၁၄။ ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှု နှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန။
၁၅။ ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမား ညွှန်ကြားရေး ဦးစီးဌာန။
၁၆။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ ဆက်သွယ်ရေး လုပ်ငန်း။
၁၇။ ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်း အခွန်များ ဦးစီးဌာန။
၁၈။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ အာမခံ လုပ်ငန်း။
၁၉။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ လျှပ်စစ်ဓါတ်အား လုပ်ငန်း။
၂၀။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ မီးရထား။
၂၁။ ဥက္ကဋ္ဌ၊ ပြည်ထောင်စု မြန်မာနိုင်ငံ ကုန်သည်များ နှင့် စက်မှုလက်မှုလုပ်ငန်းရှင်များ အသင်းချုပ်။
၂၂။ မန်နေဂျင်း ဒါရိုက်တာ၊ မြစ်မင်း ဧရာဝတီ ဆောက်လုပ်ရေးအဖွဲ့ ကုမ္ပဏီ လီမိတက် (Myitmin Ayeyarwaddy Construction Group Co., Ltd.)။